၁၀.၁။ စီမံကိန်းကို စနစ်တကျလုပ်ငန်းလည်ပတ်ဆောင်ရွက်ရန်နှင့် စီမံကိန်းကုမ္ပဏီအတွက် ဝင်ငွေရရှိစေရန်တို့အတွက် သဘော်များကို ဆီဖြည့်ခြင်းလုပ်ငန်းများဆောင်ရွက်ရန်အတွက် စီမံကိန်းကုမ္ပဏီအား စက်သုံးဆီဆိုင် ကို တည်ထောင်ရန် ခွင့်ပြုကြောင်း အငှားချထားသူက လက်ခံအတည်ပြုပြီး အထက်ဖော်ပြပါ အပိုဒ် ၂ တွင်သတ်မှတ်ထားသော ခွင့်ပြုချက်ဆိုင်ရာအခွင့်အရေးများနှင့်အညီ၊ စီမံကိန်းကုမ္ပဏီအနေဖြင့် စက်သုံးဆီဖြန့်ဖြူးရေးအတွက် စက်သုံးဆီဆိုင် တည်ဆောက်ရေး၊ လုပ်ငန်းလည်ပတ်ဆောင်ရွက်ရေး နှင့် စီမံကိန်းကုမ္ပဏီက စီမံကိန်းဆောင်ရွက်သည့်လုပ်ငန်းခွင်တွင် စက်သုံးဆီလုပ်ငန်းဆောင်ရွက်ရန် လိုအပ်သောလောင်စာဆီကို ပုံမှန်ထောက်ပံ့ဖြန့်ဖြူးနိုင်ခွင့် ရရှိရန် အတွက် (ဆောက်လုပ်ခွင့်ခွင့်ပြုမိန့်၊ မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်း (MOGE) ထံမှ စက်သုံးဆီ ဖြန့်ဖြူးရေးလိုင်စင်များ နှင့် ခွင့်ပြုချက်များ နှင့် ကုန်သွယ်ခွင့်လိုင်စင်များ အပါအဝင်) လိုင်စင်များ၊ ခွင့်ပြုမိန့် များနှင့် အခြားခွင့်ပြုချက်များရရှိအောင် ဆောင်ရွက်ရာတွင် လည်းကောင်း၊ အခြားလိုအပ်သောကိစ္စအဝဝကို ဆောင်ရွက်ရာတွင်လည်းကောင်း အငှားချထားသူက ကူညီဆောင်ရွက် ပေးမည် ဟု သဘောတူကတိပြုပါသည်။

**(၁၁) အခြားသဘောတူခွင့်ပြုချက်များ**

၁၁.၁။ စီမံကိန်းကုမ္ပဏီ အနေဖြင့် စီမံကိန်းလုပ်ငန်းခွင်တွင် စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲသည့်စက်ရုံ၊ ရေသန့် နှင့် သာမန် ရေများကို ထောက်ပံ့မှု၊ ဓာတ်အား၊ ဘီလပ်မြေ အစရှိသည်တို့ကို ထောက်ပံ့မှု၊ အထောက်အပံ့ပစ္စည်း ဝယ်ယူရေး ဌာန၊ သင်တန်း၊ လုံခြုံရေးသင်တန်းကျောင်းများ နှင့် အရေးပေါ်ဌာနတို့ကို တည်ထောင်ရန်/ အကောင် အထည်ဖော်ဆောင်ရွက်ရန်အတွက် လိုအပ်သောလိုင်စင်များ၊ ခွင့်ပြုမိန့်များ သို့မဟုတ် အခြားခွင့်ပြုချက် များအားလုံးကို ရရှိအောင် ဆောင်ရွက်ရာတွင်လည်းကောင်း၊ ၎င်းနှင့်စပ်လျဉ်း၍ အခြားလိုအပ် သောကိစ္စအဝဝကို ဆောင်ရွက် ရာတွင်လည်းကောင်း အငှားချထားသူက ကူညီဆောင်ရွက် ပေးမည်ဟု သဘောတူပါသည်။

**(၁၂) မလွန်ဆန်နိုင်သောဖြစ်ရပ်**

၁၂.၁။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဟူသောစကားရပ်သည် ဤတွင်ဖော်ပြထားသည့်အတိုင်း ကြိုတင်မှန်းဆ၍ မရနိုင်သည့် သဘာဝဘေးအန္တရာယ်များ၊ အစိုးရ၏တားဆီးပိတ်ပင်မှု၊ အလုပ်သမားသပိတ်များ၊ အလုပ်သမားသပိတ်ကြောင့် အလုပ်ရှင်က အလုပ်ရုံကို ပိတ်ထားခြင်း၊ လုပ်ငန်းဆိုင်ရာ အနှောင့်အယှက်များ၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီး ခြင်း၊ မြေငလျင်၊ မုန်တိုင်းတိုက်ခတ်ခြင်း၊ လျှပ်စီးလက်ခြင်း နှင့် မှတ်တမ်းလက်မှတ်ရေးထိုးသူတစ်ဦးက ထိန်းချုပ် ဆောင်ရွက်နိုင်စွမ်းမရှိသော၊ ဂရုတစိုက်ကြိုးပမ်းအားထုတ်မှုဖြင့် ကျော်လွှားနိုင်စွမ်းမရှိသော ဤတွင်ဖော်ပြထား သည့် အခြားအလားတူဖြစ်ရပ်များကို ဆိုလိုပါသည်။

စာချုပ်ဝင်တစ်ဦးသည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဤသဘောတူမှတ်တမ်းပါ မိမိ၏တာဝန် များကို အပြည့်အဝသော်လည်းကောင်း၊ တစ်စိတ်တစ်ပိုင်းသော်လည်းကောင်း ယာယီအားဖြင့် မဆောင်ရွက်နိုင်ပါက၊ သို့မဟုတ် ဤသဘောတူမှတ်တမ်းအရ အခြားစာချုပ်ဝင်တစ်ဦး၏ဆောင်ရွက်ချက်ကို

အပြည့်အဝသော်လည်းကောင်း၊ တစ်စိတ်တစ်ပိုင်းသော်လည်းကောင်း ယာယီအားဖြင့် လက်ခံနိုင်သည့် အနေ အထားမရှိပါက နစ်နာသောစာချုပ်ဝင်သည် အဆိုပါမလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုင်ရာ အသေးစိတ် အချက်အလက်များကို စာဖြင့်ရေးသားလျက် အခြားမှတ်တမ်းလက်မှတ်ရေးထိုးသူအား အဆိုပါဖြစ်ရပ်ပေါ်ပေါက် ပြီး တစ်ဆယ့်လေး (၁၄) ရက်အတွင်း အကြောင်းကြားရမည်ဟု နှစ်ဖက်စာချုပ်ဝင်များက သဘောတူကြပါသည်။ အဆိုပါမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ထိခိုက်ခံစားရသည့် အဆိုပါနစ်နာသော စာချုပ်ဝင်၏တာဝန်များကို ထိုသို့လုပ်ငန်းဆောင်ရွက်နိုင်ခြင်း မရှိသည့်ကာလအတွင်း ဆောင်ရွက်ရန် ခေတ္တဆိုင်းငံ့ထားရမည်။ သို့ရာတွင် အဆိုပါဆောင်ရွက် ရန်ဆိုင်းငံ့ကာလသည် ရှည်ကြာသည့်အချိန်ကာလ မဖြစ်စေရ။ အဆိုပါဖြစ်ရပ်ကို အချိန်မကြန့်ကြာ စေဘဲအမြန်ဆုံးအဆုံးသတ်နိုင်ရန်လုံ့လစိုက်ထုတ်လျက်ဆောင်ရွက် ရမည်။ မလွန်ဆန်နိုင်သောဖြစ်ရပ် တစ်စုံတစ်ရာကြောင့် ပေါ်ပေါက်သော နှောင့်နှေးမှုကြောင့်ဖြစ်လာသည့် ပျက်စီး နစ်နာမှု သို့မဟုတ် ဆုံးရှုံးမှုအတွက် မည်သည့်မှတ်တမ်းလက်မှတ်ရေးထိုးသူတွင်မျှ တာဝန်မရှိစေရ။

၁၂.၂။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဖြစ်ပေါ်ပါက၊ နစ်နာသော စာချုပ်ဝင်က အခြားစာချုပ်ဝင်အား ခုနစ် (၇) ရက်ထက်နောက်မကျစေဘဲ အမြန်ဆုံးအကြောင်းကြားရမည်ဖြစ်ပြီး၊ အဆိုပါမလွန်ဆန်နိုင်သောဖြစ်ရပ်က MOA ပါ ၎င်း၏တာဝန်များအား ဖြည့်ဆည်းဆောင်ရွက်ခြင်းကို မည်သို့ဆိုးကျိုးသက်ရောက်ပုံကို အသေးစိတ်ရှင်းလင်းတင်ပြရမည်။ အခြား စာချုပ်ဝင်က သဘောတူပါက၊ ဤ MOA အရ နစ်နာသောစာချုပ်ဝင်၏တာဝန်များကို မလွန်ဆန် နိုင်သောဖြစ်ရပ်ကာလအတွင်း ဆိုင်းငံ့ထားရမည်။ အငှားချထားသူ သို့မဟုတ် မြန်မာနိုင်ငံအစိုးရက သိမ်းဆည်းရန် လုပ်ဆောင်နိုင်သည့် ဆောင်ရွက်ချက်များကိုလိုက်နာလျက်၊ မလွန်ဆန်နိုင်သော ဖြစ်ရပ် ကာလအတွင်း အခြားစာချုပ်ဝင်ကြုံတွေ့ရသောဆုံးရှုံးပျက်စီးမှုများအတွက် မည်သည့် စာချုပ်ဝင်မျှ တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ခုပေါ်ပေါက်တော့မည်ဟု စာချုပ်ဝင် တစ်ဖက်က ယူဆပါက အဆိုပါစာချုပ်ဝင်သည် အခြား စာချုပ်ဝင်အား အဆိုပါကိစ္စကို အမြန်ဆုံး စာဖြင့်ရေးသားအကြောင်းကြားရမည်။

၁၂.၃။ မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်ပါက ယခင်တာဝန်ယူဆောင်ရွက်ခဲ့ပြီး ပြည့်မီအောင်ဖြည့်ဆည်း ဆောင်ရွက်နိုင်ရန် ကျန်ရှိသော တာဝန်များမှအပ နှစ်ဖက်စာချုပ်ဝင်တို့၏ MOA ပါ တာဝန် များကို မလွန်ဆန်နိုင်သောဖြစ်ရပ်ကာလတွင်း ဆိုင်းငံ့ထားရမည်။ သို့ရာတွင် နစ်နာသောစာချုပ်ဝင်သည် အဆိုပါဖြစ်ရပ်ဖြစ်ပေါ်သည့်အကြောင်းရင်းကို ပြန်လည်ကုစားပြင်ဆင်ရန် အတတ် နိုင်ဆုံး ကြိုးစားအားထုတ်လျက် ဆောင်ရွက်ကြရမည်။

၁၂.၄။ မလွန်ဆန်နိုင်သောဖြစ်ရပ်ပြီးဆုံးပြီးနောက် ခုနစ် (၇) ရက်အတွင်း နစ်နာသောစာချုပ်ဝင် သည် MOA ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ညှိနှိုင်းပြင်ဆင်ရန်တောင်းဆိုကြောင်း အခြားစာချုပ်ဝင်အား စာဖြင့်ရေးသားအကြောင်းကြားရမည်။ အခြားစာချုပ်ဝင်က မလွန် ဆန်နိုင်သောဖြစ်ရပ်ကြောင့် စုစုပေါင်းနှောင့်နှေးသည့်အကျိုးသက်ရောက်မှုကို အလေးထားထည့်သွင်းစဉ်းစားလျက် ကျိုးကြောင်း ဆီလျော်သလို သို့မဟုတ် လိုအပ်သလို ညှိနှိုင်းပြင်ဆင်ခွင့်ပြုရမည်။

၁၂.၅။ စီမံကိန်းကုမ္ပဏီက ခွင့်ပြုသည့်ကာလအတွင်း နှစ်စဉ်ငှားရမ်းခကို ပေးဆောင်နေသမျှကာလပတ်လုံး အငှားချထားသူက မလွန်ဆန်နိုင်သောဖြစ်ရပ်အား အကြောင်းပြုလျက် မြေငှားရမ်းမှုကို ဖျက်သိမ်းခွင့်မရှိစေရ ဟူ၍ စာချုပ်ဝင်များက သဘောတူကြသည်။

၁၂.၆။ နှစ်နာသောစာချုပ်ဝင်က ပထမအကြိမ်အကြောင်းကြားစာပေးပို့ပြီးနောက် မလွန်ဆန်နိုင် သော ဖြစ်ရပ်သည် ရက်ပေါင်း ၁၈၀ ဆက်တိုက်ဆက်လက်ဖြစ်ပွားနေပါက စာချုပ်ဝင် တစ်ဖက်ဖက် က ဤ MOA ကို ရပ်စဲခွင့်ရှိစေရမည်။ အဆိုပါရပ်စဲခြင်းသည် ဤ MOA ၏ အပိုဒ် ၂၂ နှင့် အညီ ဖြစ်စေရမည်။

**(၁၃) အကြောင်းကြားစာများ**

၁၃.၁။ ဤ MOA ပါ ပြဋ္ဌာန်းချက်များကို လိုက်နာလျက်၊ အကြောင်းကြားစာများနှင့် အခြားဆက်သွယ်ဆောင်ရွက်မှုများကို အင်္ဂလိပ်ဘာသာဖြင့် ရေးသားလျက် ပေးပို့ရမည်ဖြစ်ပြီး၊ အခြားနည်းအရ သီးခြားသတ်မှတ်ချက်မရှိပါက၊ ဖက်စ်ဖြင့်ဖြစ်စေ၊ အီးမေးလ်ဖြင့်ဖြစ်စေ ပေးပို့ရမည်ဖြစ်ကာ ထိုသို့ပေးပို့ပြီးနောက် မှတ်ပုံတင်လေကြောင်းစာ သို့မဟုတ် စာတိုက်မှတစ်ဆင့်ပေးပို့သောစာ သို့မဟုတ် ပေးပို့မှုဆိုင်ရာဝန်ဆောင်ခများကို အပြည့်အဝပေးချေလျက် စာပို့စနစ်ဖြင့် အောက်ပါစာချုပ်ဝင်များကို လိပ်မူလျက် အတည်ပြု ပေးပို့ရမည်။

အငှားချထားသူသို့ပေးပို့ခြင်းဖြစ်ပါက၊
နေရပ်လိပ်စာ၊
တယ်လီဖုန်းနံပါတ်၊
ဖက်စ်နံပါတ်၊
အီးမေးလ်
တာဝန်ရှိသူ၊

စီမံကိန်း ကုမ္ပဏီသို့ ပေးပို့ခြင်း ဖြစ်ပါက၊
နေရပ်လိပ်စာ၊
တယ်လီဖုန်းနံပါတ်၊
ဖက်စ်နံပါတ်၊
အီးမေးလ်
တာဝန်ရှိသူ၊

၁၃.၂။ တဲလက်စ်ဖြင့်ပေးပို့သော အကြောင်းကြားချက်များကို အပေးပို့စာ Telecopy ရရှိမှုအား အီလက်ထရောနစ်နည်းဖြင့် အတည်ပြုသော လုပ်ငန်းဆောင်ရွက်သည့်နေ့ရက်တွင် နည်းလမ်းတကျ ပေးပို့ပြီး ဖြစ်သည်ဟု မှတ်ယူ၍ စာချုပ်ဝင်တစ်ဦး၏ လိပ်စာ သို့မဟုတ် ဖက်စ်နံပါတ်အား ပြောင်းလိုပါက၊ အခြား စာချုပ်ဝင်အား စာဖြင့်ရေးသားထားသောအကြောင်းကြားစာပေးပို့လျက် ပြောင်းလဲနိုင် သည်။

**(၁၄) အခွန်အကောက်များ**

၁၄.၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရက ပြဋ္ဌာန်းသော တည်ဆဲဥပဒေများ၊ နည်းဥပဒေနှင့် စည်းမျဉ်းဥပဒေများအရ စီမံကိန်းကုမ္ပဏီအား အခွန်များ အခါအားလျော်စွာ စည်းကြပ်ရမည်။

၁၄.၂။ မြန်မာနိုင်ငံနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ၊ စီမံကိန်းကုမ္ပဏီက ပေးဆောင်ရမည့် ဝင်ငွေခွန်၊ ကုန်သွယ်လုပ်ငန်းခွန်၊ အကောက်ခွန်နှင့် အခြားအခွန်များအတွက် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ရရှိအောင် အငှားချထားသူက ကူညီရမည်။

**(၁၅) ဝင်ငွေအားခွဲဝေခံစားခြင်း**

၁၅.၁။ စီမံကိန်းကုမ္ပဏီ၏ စာရင်းစစ်ထားပြီးဖြစ်သည့် ငွေစာရင်းရှင်းတမ်း (Financial statement) တွင် ထည့်သွင်းဖော်ပြလျက် စီမံကိန်းမှစီမံကိန်းကုမ္ပဏီရရှိသော အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်း (၂ %) ကို အငှားချထားသူက ခံစားခွင့်ရှိစေရမည်ဖြစ်ကြောင်း စာချုပ်ဝင်များက သဘောတူ သည်။ (နောင်တွင် "အကျိုးအမြတ်ခွဲဝေခံစားခြင်း" ဟုခေါ်ဆိုမည်။) အဆိုပါငွေစာရင်းရှင်းတမ်းမိတ္တူကို ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီးနောက် ခြောက် (၆) လအတွင်း အငှားချထားသူအား ပေးပို့ရမည်။

**(၁၆) ပေါင်နှံခြင်း၊ လွှဲအပ်ခြင်း နှင့် လွှဲပြောင်းပေးအပ်ခြင်း**

၁၆.၁။ စီမံကိန်းကုမ္ပဏီသည် အငှားချထားသူ၏ သဘောတူခွင့်ပြုချက်ကိုရယူ၍ (ကျိုးကြောင်းဆီလျော်မှုမရှိပဲ အငှားချထားသူမှ ခွင့်ပြုချက်ကိုငြင်းဆန်မှုပြုလုပ်ခြင်းမပြုရန်) အပြီးအပြတ်လွှဲပြောင်းခြင်း အရ ဖြစ်စေ၊ ရပိုင်ခွင့်အပေါင်ထားခြင်း (charge)၊ ငှားရမ်းခြင်း၊ ပေါင်နှံခြင်း (mortgage) သို့မဟုတ် လွှဲအပ်ခြင်း သို့မဟုတ် ဥပဒေအရသတ်မှတ်ထားသည့် အခြား နည်းလမ်းဖြင့် လွှဲပြောင်းပေးအပ်ခြင်းအရဖြစ်စေ၊ ဤ MOA ပါ စီမံကိန်းရှိ မိမိ၏အကျိုးစီးပွား အားလုံးကိုဖြစ်စေ၊ အစိတ်အပိုင်းတစ်ရပ်ကိုဖြစ်စေ၊ လွှဲပြောင်းခွင့်ရှိပြီး၊ စီမံကိန်းအကောင် အထည်ဖော်ရန် အတွက် သို့မဟုတ် စီမံကိန်းလုပ်ငန်းအတွက် လုပ်ငန်းလည်ပတ်ငွေရင်းလိုအပ်ချက်များအတွက် ငွေကြေး ဖြည့်ဆည်းဆောင်ရွက်ရန်၊ ချေးငွေရယူရန် နှင့် အခြားပုံစံငွေချေးယူရန် ရည်ရွယ်လျက် မြေငှားရမ်းခြင်း သဘောတူစာချုပ်ပါ ၎င်း၏အခွင့်အရေးများကိုလည်း မြန်မာနိုင်ငံ၏ဥပဒေများနှင့်အညီ ပေါင်နှံခွင့် သို့မဟုတ် လွှဲပြောင်းခွင့်ရှိစေရမည်ဟု စာချုပ်ဝင်များက သဘောတူကြပါသည်။

**(၁၇) မြန်မာနိုင်ငံဥပဒေများကို လိုက်နာခြင်း**

၁၇.၁။ စီမံကိန်းအကောင်အထည်ဖော်ရာတွင်၊ စာချုပ်ဝင်များသည် မြန်မာနိုင်ငံဥပဒေများနှင့် စည်းမျဉ်းဥပဒေများကို လိုက်နာ၍၊ ဒေသအလိုက် ရိုးရာထုံးတမ်းစဉ်လာများကို လေးစားရမည်။

၁၇.၂။ ဤ MOA အား ကဏ္ဍစုံတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဥပဒေများနှင့်အညီ၊ အဓိပ္ပာယ် ဖွင့်ဆို၍ အဆိုပါဥပဒေများနှင့် လွှမ်းမိုးသက်ဆိုင်စေရမည်။

**(၁၈) လျှို့ဝှက်ချက်စောင့်ထိန်းခြင်း**

VDB | Loi

၁၈.၁။ စာချုပ်ဝင်တစ်ဦးချင်းစီသည် မိမိသိရှိသော ဤ MOA၊ ဤ MOA ပါ စည်းကမ်းချက်များ၊ အခြားစာချုပ်ဝင်၏စီးပွားရေးလုပ်ငန်း၊ ငွေစာရင်း၊ ဘဏ္ဍာရေး၊ customer၊ နည်းပညာ၊ ပိုင်ဆိုင်မှု သို့မဟုတ် စာချုပ်စာတမ်းများ သို့မဟုတ် အခြားလုပ်ငန်းဆိုင်ရာဆက်သွယ်ဆောင်ရွက်မှုများ၊ အခြားစာချုပ်ဝင်ဆိုင်ရာ အကြောင်းကိစ္စများနှင့် စပ်လျဉ်း၍ မည်သည့်နည်းဖြင့်မဆို ရရှိ သည့် သတင်းအချက်အလက်များကို အခြားစာချုပ်ဝင်၏စာဖြင့်ရေးသားထားသော ကြိုတင် ခွင့်ပြုချက်မပါဘဲ မည်သည့်အချိန်တွင်မျှ သုံးစွဲခြင်း၊ သတင်းပေးခြင်း သို့မဟုတ် အခြားပုဂ္ဂိုလ် တစ်ဦးနှင့် ဆက်သွယ်ပြောဆိုခြင်းမပြုကြောင်း၊ အဆိုပါကိစ္စများနှင့်စပ်လျဉ်း၍ လျှို့ဝှက်ထားရမည့် သတင်းအချက် အလက်များကို လူအများသိရှိစေခြင်း သို့မဟုတ် ဖွင့်ဟပြောဆိုခြင်းတို့ မဖြစ်ပွားစေရန် သင့်လျော်သော လုံ့လစိုက်ထုတ်လျက် ဆောင်ရွက်ရမည်ဟု ဂန်ခံကတိပြုပါသည်။ သို့ရာတွင် စာချုပ်ဝင် တစ်ဦးသည် လျှို့ဝှက်ထားရမည့် အချက်အလက်များ ကို အောက်ပါအတိုင်း ဖွင့်ဟပြောဆိုနိုင်သည် -

(က)သိရှိရန်လိုအပ်သောအခါ အဆိုပါစာချုပ်ဝင်၏ လက်အောက်ခံကုမ္ပဏီများ နှင့် မိမိ၏ သို့မဟုတ် အဆိုပါလက်အောက်ခံကုမ္ပဏီ၏ ဝန်ထမ်းများ၊ မြီရှင်များ နှင့် အကြံပေးပုဂ္ဂိုလ်များကို ထုတ်ဖော်ပြောဆိုခြင်း

(ခ) မည်သည့်စီရင်ပိုင်ခွင့်နယ်မြေတွင်မဆို သက်ဆိုင်သောဥပဒေ သို့မဟုတ် သက်ဆိုင်ရာအာဏာပိုင်များ၏ အမိန့်ကို လေးစားလိုက်နာခြင်းအားဖြင့် ထုတ်ဖော်ပြောဆိုခြင်း၊

သို့ရာတွင် ထိုကဲ့သို့ထုတ်ဖော်ပြောဆိုခြင်းမပြုလုပ်မီ ထုတ်ဖော်ပြောဆိုမည့် စာချုပ်ဝင်သည် အခြားစာချုပ်ဝင်အား အကြောင်းကြားရမည်။

၁၈.၂။ ဤ MOA ၊ စီမံကိန်းနှင့်စပ်လျဉ်းသည့်သတင်းထုတ်ပြန်ချက် သို့မဟုတ် အများပြည်သူသိစေရန် ကြေညာချက်များကို စာချုပ်ဝင်များ ပူးပေါင်းလျက် ထုတ်ပြန်ကြေညာရမည်။ သို့ရာတွင် အများပြည်သူများသိရှိစေရန် ထုတ်ပြန်ကြေညာခြင်းမပြုမီ စီမံကိန်းကုမ္ပဏီ နှင့်/ သို့မဟုတ် ၎င်း၏ လက်အောက်ခံကုမ္ပဏီများက အငှားချထားသူကို ရှေးဦးစွာ အကြောင်းကြားကာ ထုတ်ပြန်ကြေညာမည့် အချက်အလက်များ မိတ္တူကို အငှားချထားသူအား ပေးပို့ပါက စီမံကိန်းကုမ္ပဏီ နှင့်/သို့မဟုတ် ၎င်း၏ လက်အောက်ခံကုမ္ပဏီများကို မည်သည့် စီရင်ပိုင်ခွင့်နယ်မြေတွင်မဆို သက်ဆိုင်ရာဥပဒေ သို့မဟုတ် စည်းမျဉ်းဆိုင်ရာ လိုအပ်ချက်များကို လိုက်နာရန် ၎င်းတို့သင့်လျော်သည်ဟုယူဆသည့်အတိုင်း အများပြည်သူအား ထုတ်ပြန် ကြေညာခွင့်ပြုကြောင်း အငှားချထားသူက သဘောတူပါသည်။

၁၈.၃။ အပိုဒ် ၁၈.၁ ကို ဆန့်ကျင်လျက် သတင်းအချက်အလက်တစ်စုံတစ်ရာအားထုတ်ဖော်ပြောဆိုခြင်းသည် စီမံကိန်းကုမ္ပဏီကိုသိသာထင်ရှားစေသည့်ထိခိုက်နစ်နာမှုဖြစ်စေပြီး ဥပဒေအရပြန်လည်ကုစားဆောင်ရွက်မှု များသည် အဆိုပါဖောက်ဖျက်မှုများကို ကာကွယ်ရန်လုံလောက်မှုမရှိခြင်းတို့ဖြစ်နိုင်ကြောင်း စာချုပ်ဝင်တစ်ဦးချင်းစီက သိရှိပါသည်။ စီမံကိန်းကုမ္ပဏီသည် injunctive relief အပြင် ဥပဒေအရ မိမိအနေဖြင့် ရရှိနိုင်သော အခြားသက်သာခွင့်များကိုပါ ခံစားခွင့်ရှိကြောင်း စာချုပ်ဝင် တစ်ဦးချင်းစီက အတည်ပြုပါသည်။

၁၈.၄။ ဤအပိုဒ်တွင်သတ်မှတ်ဖော်ပြထားသော တာဝန်များသည် ဤ MOA ရပ်စဲပြီးနောက် တစ် (၁) နှစ်အထိ ဆက်လက်အကျိုးသက်ရောက်စေရမည်။

## (၁၉) စည်းနှောင်မှု

၁၉.၁။ ဤ MOA သည် စာချုပ်ဝင်များအပေါ် စည်းနှောင်မှုရှိကြောင်းနှင့် ယင်း၏ စည်းကမ်းချက် များနှင့်အညီ၊ ဤ MOA ၏ ပြဋ္ဌာန်းချက်များသည် တရားဝင်သော၊ စည်းနှောင်မှုရှိသော၊ လိုက်နာရန် လိုအပ်သော ပြဋ္ဌာန်းချက်များဖြစ်ကြောင်း စာချုပ်ဝင်များက လက်ခံသည်။

## (၂၀) အငြင်းပွားမှု ဖြေရှင်းခြင်း

၂၀.၁။ ဤ MOA သို့မဟုတ် စီမံကိန်းနှင့် စပ်လျဉ်း၍ ပေါ်ပေါက်သော အငြင်းပွားမှုအားလုံးကိုဖြစ်စေ၊ အချို့ကို ဖြစ်စေ၊ ဖြစ်နိုင်သရွေ့၊ စာချုပ်ဝင်များအကြား ပြုလုပ်သောညှိနှိုင်းမှုများ ဆောင်ရွက် လျက်၊ ငြိမ်းချမ်းစွာ ဖြေရှင်းရမည်။

၂၀.၂။ ဆယ့်ငါး (၁၅) ရက်အတွင်း အငြင်းပွားမှုအား ညှိနှိုင်းမှုဖြင့် ဖြေရှင်း၍မရပါက၊ မည်သည့်ပြည်တွင်း အုပ်ချုပ်ရေး သို့မဟုတ် တရားစီရင်ရေးသုံးသပ်ချက်များ ဆောင်ရွက်ရန် မလိုအပ်ဘဲ၊ မည်သည့် စာချုပ်ဝင်ကမဆို၊ UNCITRAL နည်းဥပဒေများ (နောင်တွင် "UNCITRAL နည်းဥပဒေများ" ဟုခေါ် ဆိုမည်။) အညီ နောက်ဆုံးနည်းလမ်းအနေဖြင့် ဖြေရှင်းပေးနိုင်ရန်အတွက် အငြင်းပွားမှုကို လွှဲပြောင်းပေးခွင့် ရှိသည်။ UNCITRAL နည်းဥပဒေများသည် ဤ အပိုဒ် ၂၀.၂ တွင် ဖော်ပြထားချက်အရ ကိုးကားချက်အဖြစ် ထည့်သွင်းပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

၂၀.၃။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် စင်ကာပူနိုင်ငံတကာအနုညာတစီရင်ရေးစင်တာ (Singapore International Arbitration Centre) ဖြစ်စေရမည်။

၂၀.၄။ အနုညာတစီရင်ခြင်းတွင် အသုံးပြုသည့် ဘာသာစကားသည် အင်္ဂလိပ်ဘာသာစကားဖြစ်ရမည်။

၂၀.၅။ အနုညာတခုံရုံးအား ခုံသမာဓိ တစ်(၁)ဦးဖြင့် ဖွဲ့စည်းရမည်။ စာချုပ်ဝင်များက အနုညာတ စီရင်မှုဆောင်ရွက်ရာတွင် ခုံသမာဓိနှင့် ၄င်းတို့၏ကိုယ်စားလှယ်ခန့်ထားမှုအတွက် စရိတ်စကများကို အချိုးအဆမျှတစွာကျခံရမည်။ စာချုပ်ဝင်များ ညှိနှိုင်းလျက် ခုံသမာဓိကို မခန့်အပ်နိုင်ပါက SIAC နည်းဥပဒေများနှင့်အညီ အဆိုပါခုံသမာဓိကို ခန့်အပ်ရမည်။ အမှုရှုံးသော စာချုပ်ဝင်က အနုညာတစီရင်မှုအတွက် ကုန်ကျစရိတ်များ၊ တိကျစွာဆိုရသော်၊ ခုံသမာဓိကုန်ကျစရိတ် အတွက်၊ အခြားစာချုပ်ဝင်ကို ပေးလျော်ရမည်။

၂၀.၆။ စီရင်ပိုင်ခွင့်ရှိသော မည်သည့်နေရာတွင်မဆို၊ စာချုပ်ဝင်တစ်ဦးသည် ၄င်းကိုယ်တိုင် အတွက် သို့မဟုတ် ၄င်း၏ပစ္စည်းများ သို့မဟုတ် ဝင်ငွေအတွက်၊ တရားစွဲဆိုမှု၊ ဇာရီမှု၊ ပစ္စည်းဝရမ်း ကပ်ခြင်း၊

တရားရုံးစီရင်ချက်မချမီ သို့မဟုတ် အခြားနည်းအရ၊ ဇာရီမှုအတွက် အထောက်အကူဖြစ်စေရန် ဖြစ်စေ၊) သို့မဟုတ် အခြားနည်းဥပဒေအရဆောင်ရွက်ခြင်းမှ သက်သာခွင့်ကို တောင်းဆိုနိုင်သည်ဟူသော အချက်ကို အခြေခံ၍ဖြစ်စေ၊ အဆိုပါစီရင်ပိုင်ခွင့်ရှိသောနေရာတွင်၊ အဆိုပါသက်သာခွင့်သည် (တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ) ၎င်းကိုယ်တိုင် သို့မဟုတ် ၎င်း၏ပစ္စည်းများ သို့မဟုတ် ဝင်ငွေကြောင့် ပေါ်ပေါက်နိုင်သည်ဟူသောအချက်ကို အခြေခံ၍ ဖြစ်စေ၊ စာချုပ်ဝင်တစ်ဦးချင်း စီက အဆိုပါသက်သာခွင့်အား တောင်းဆိုခြင်း မပြုရန် သဘောတူမည်ဖြစ်ပြီး၊ အဆိုပါနေရာဒေသ၏ ဥပဒေများက ခွင့်ပြုသောပမာဏ အပြည့်အဝသို့ရောက်သည်အထိ၊ အဆိုပါသက်သာခွင့်အား ပြန်လည်ရုပ်သိမ်းခွင့်မရှိသော စွန့်လွှတ်မှုဖြင့် စွန့်လွှတ်ကြောင်း စာချုပ်ဝင်များက သဘောတူကြပါ သည်။

## (၂၁) လွှမ်းမိုးသည့်ဘာသာစကား

၂၁.၁။ ဤ MOA နှင့်တစ်နည်းနည်းဆက်စပ်နေသော အကြောင်းကြားစာများ၊ အပြန်အလှန်ဆက်သွယ်ဆောင်ရွက်မှုများ၊ စာရွက်စာတမ်းများ နှင့် အစည်းအဝေးမှတ်တမ်းများကို အင်္ဂလိပ်ဘာသာစကားကို အသုံးပြုလျက် စာဖြင့် ရေးသားရမည်။

၂၁.၂။ ဤ MOA ကို အင်္ဂလိပ်ဘာသာစကားဖြင့် ရေးသားပြုစုထားပြီး အင်္ဂလိပ်ဘာသာစကားသည် ဤ MOA ကို ဘာသာပြန်ဆိုနိုင်သည့် အခြားဘာသာစကားများ (မြန်မာဘာသာစကားအပါအဝင်) အားလုံးကို လွှမ်းမိုးစေရမည်။

၂၁.၃။ အင်္ဂလိပ်ဘာသာဖြင့်ရေးသားထားသည့် MOA နှင့် ဤ MOA ၏ဘာသာပြန်စာရွက်စာတမ်းကို စာချုပ်ဝင်များက အပိုဒ် ၂၁.၂ တွင် သတ်မှတ်ထားသော ပြဋ္ဌာန်းချက်များကို အမြဲလေးစား လိုက်နာ လျက် မူပွားများဖြင့် ချုပ်ဆိုကြရမည်။ အဆိုပါပြဋ္ဌာန်းချက်များအရ အင်္ဂလိပ်ဘာသာဖြင့်ရေးသား ပြုစု ထားသည့် MOA သည် အမြဲလွှမ်းမိုးရမည်။ လက်မှတ်ရေးထိုးထားသည့်မူပွားတစ်ခုစီကို ဤ MOA ၏ မူရင်းစာရွက်စာတမ်းဖြစ်သည် ဟု မှတ်ယူရမည်။

## (၂၂) သက်တမ်းကာလနှင့် ဖျက်သိမ်းခြင်း

၂၂.၁။ ဤ MOA သည် စတင်အကျိုးသက်ရောက်သောနေ့တွင် စတင်အကျိုးသက်ရောက်မည်ဖြစ်ပြီး၊ ဤ MOA ပါ စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ၊ စောစီးစွာဖျက်သိမ်းခြင်းမရှိပါက၊ ခွင့်ပြုသည့်ကာလကုန်ဆုံးသည့် နေ့ရက်အထိ အာဏာသက်ရောက်အတည်ဖြစ်သည်။

၂၂.၂။ အောက်ပါဖြစ်ရပ်တစ်ခုခု ပေါ်ပေါက်ပါက၊ စာဖြင့်ရေးသောအကြောင်းကြားချက်ကိုပေးပို့လျက်၊ ဤ MOA အား ဖျက်သိမ်းနိုင်သည်။

(က) စာချုပ်ဝင်တစ်ဦးက ဤ MOA အရ ဆောင်ရွက်ရမည့်မိမိတာဝန်တစ်ရပ်ရပ်အား အရေးပါသည့်ကိစ္စရပ်ကို ဖောက်ဖျက်ကျူးလွန်ခဲ့ပြီး အဆိုပါဖောက်ဖျက်မှုအား ကုစားနိုင်ရန်

အကြောင်းကြားချက်ပေးပို့ပြီး၊ လုပ်ငန်းဆောင်ရွက်သည့်ရက်ပေါင်း ကိုးဆယ် (၉၀) အတွင်း ကုစားဆောင်ရွက်ရန် ပျက်ကွက်ပါက၊ စာချုပ်ဝင်တစ်ဦးဦးက ဖျက်သိမ်းနိုင်သည်။

(ခ) အခြားစာချုပ်ဝင်တစ်ဦးနှင့်စပ်လျဉ်းပြီး၊ အကြွေးမဆပ်နိုင်သော လူမွဲစာရင်းခံခြင်း ပေါ်ပေါက်သည်နှင့်ချက်ချင်းစာချုပ်ဝင်တစ်ဦးဦးက ဖျက်သိမ်းနိုင်သည်။

(ဂ) ရက်ပေါင်း ၁၈၀ ဆက်တိုက်မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်ပါက စာချုပ်ဝင် တစ်ဦးဦးက ဖျက်သိမ်းနိုင်သည်။

၂၂.၃။ စာချုပ်ဝင်များက စာဖြင့်ရေးသားသော သဘောတူညီချက်ဖြင့် စွန့်လွှတ်ခြင်း မရှိပါက၊ ဖျက်သိမ်းသောနေ့ရက်တွင် ဤ MOA ဖျက်သိမ်းသည့်အတွက် စာချုပ်ဝင်များတွင် ရရှိပြီးဖြစ်သော ရပိုင်ခွင့်များနှင့်ပေးရန်တာဝန်များကို ထိခိုက်ခြင်းမရှိစေရ။

၂၂.၄။ အငှားချထားသူက ဤ MOA ဖျက်သိမ်းရန် တင်ပြချက်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ဝန်ကြီးများအဖွဲ့၏ ဖျက်သိမ်းရန် ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်စေရမည်။

၂၂.၅။ [ခွင့်ပြုသည့်ကာလမကုန်ဆုံးမီ အငှားချထားသူက ဤ MOA ကို ဖျက်သိမ်းပါက အငှားချထားသူသည် စီမံကိန်းကုမ္ပဏီကို လျော်ကြေးပေးရမည်။ စီမံကိန်းအတွက် ပေးချေရမည့် အဖိုးစားနား (နောင်တွင် အဖိုးစားနား ဟု ခေါ်ဆိုမည်) ကို အောက်ပါအတိုင်း တွက်ချက်ရမည် -

(က) စီမံကိန်းဆိုင်ရာသဘောတူစာချုပ်များပါ တာဝန်များကို စီမံကိန်းကုမ္ပဏီက ဖြည့်ဆည်းဆောင်ရွက်ရန် ပျက်ကွက်ခြင်းကြောင့် ဖြစ်ပါက အဖိုးစားနားသည် (၁) စီမံကိန်းကုန်ကျစရိတ်အားလုံး (တည်ဆောက်ရေးကာလအတွင်း MOA ကို ဖျက်သိမ်းပါက) သို့မဟုတ် (၂) တန်ဖိုးလျော့ကျမှု (depreciation) ကို နုတ်ထားသည့် စီမံကိန်းကုန်ကျစရိတ်အားလုံး (တည်ဆောက်ရေးကာလပြီးနောက် MOA ကို ဖျက်သိမ်းပါက)၊

(ခ) ဤ MOA ၏အပိုဒ် ၁၂ နှင့်အညီ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဖြစ်ပါက အဖိုးစားနားသည် (၁) စီမံကိန်းကုန်ကျစရိတ်အားလုံး x (၁ + စံသတ်မှတ်ထားသည့်ဈေးငွေဆိုင်ရာအတိုးနှုန်း) (တည်ဆောက်ရေးကာလအတွင်း MOA ကို ဖျက်သိမ်းပါက) သို့မဟုတ် (၂) the weighted average of the sum of the total value of the project နှင့် ကျန်ရှိသော ခွင့်ပြုသည့် ကာလအတွက် စီမံကိန်းမှ နောင်တွင် ရရှိနိုင်မည်ဟု မျှော်မှန်းထားသော အမြတ် (တည်ဆောက်ရေး ကာလပြီးနောက် MOA ကို ဖျက်သိမ်းပါက)၊

(ဂ) စီမံကိန်းဆိုင်ရာသဘောတူစာချုပ်များပါ တာဝန်များကို အငှားချထားသူက ဖြည့်ဆည်းဆောင်ရွက်ရန် ပျက်ကွက်ခြင်းကြောင့် ဖြစ်ပါက အဖိုးစားနားသည် (၁) စီမံကိန်းကုန်ကျစရိတ်အားလုံး x (၁ + စံသတ်မှတ် ထားသည့်ဈေးငွေဆိုင်ရာအတိုးနှုန်း) (တည်ဆောက်ရေးကာလအတွင်း MOA ကို ဖျက်သိမ်းပါက) သို့မဟုတ် (၂) the weighted average of the sum of the total value of the project နှင့် ကျန်ရှိသော ခွင့်ပြုသည့်ကာလအတွက် စီမံကိန်းမှ နောင်တွင် ရရှိနိုင်မည်ဟု မျှော်မှန်းထားသော အမြတ် (တည်ဆောက်ရေးကာလပြီးနောက် MOA ကို ဖျက်သိမ်းပါက)

ᶜ "Value of the Project" (စီမံကိန်း၏တန်ဖိုး) ဟူသောစကားရပ်တွင် မြေ ပေါ်တွင် တည်ဆောက်ထားသည့် အဆောက်အဦများ နှင့် အထောက်အကူပြုအဆောက်အအုံများ၊ မြေပေါ်တွင် မွမ်းမံပြင်ဆင်ဆောင်ရွက်မှုများ၊ unutilized ငှားရမ်းခ (မြေငှားရမ်းခြင်းသဘောတူစာချုပ်တွင် အဓိပ္ပာယ်သတ်မှတ်ထားသည့်အတိုင်း) တို့ ပါဝင်ရမည်။ စာချုပ်ဝင်များသည် အဖိုးစားနားကို သတ်မှတ်ရန် ဖျက်သိမ်းခြင်းမပြုမီ တစ် (၁) လအတွင်း independent နိုင်ငံတကာ အရည်အချင်းပြည့်မီသည့်တန်ဖိုးဖြတ်သူကို နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် ခန့်အပ်ရမည်။ စာချုပ်ဝင်များသည် သတ်မှတ်ကာလအတွင်း တန်ဖိုးဖြတ်သူကို ခန့်အပ်ရန် ညှိနှိုင်း၍မရပါက အငှားချထားခြင်းခံရသူ သည် ၎င်းတစ်ဦးတည်း၏ဆန္ဒအရ တန်ဖိုးဖြတ်သူကို တာဝန် ပေးအပ်ခွင့်ရှိစေရမည်။]

သို့မဟုတ်

၂၂.၅။ [အငှားချထားသူဖက်က ရပ်စဲပါက ပေးလျော်ရမည့် လျော်ကြေးကို ၂၀၁၆ ခုနှစ်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၅၃ နှင့်အညီ သတ်မှတ်ရမည်ဖြစ်ပြီး ထိုသို့ရပ်စဲသည့်ရက်စွဲမှ ခြောက် (၆) လအတွင်း အဆိုပါ လျော်ကြေးကို ပေးလျော်ရမည်။ ဤအပိုဒ်အရ အငှားချထားသူက အငှားချထားခြင်းခံရသူကို ပေးလျော်ရ မည့် လျော်ကြေးကို ရည်ရွယ်ချက်များအားလုံးအတွက် ဦးစားပေး ပေးဆပ်ရမည့်ကြွေးမြီ (Senior Debt) အဖြစ် မှတ်ယူကြရမည်ဖြစ်ပြီး ဤအပိုဒ်အရ အငှားချထားခြင်းခံရသူအား ပေးလျော်ရမည့် လျော်ကြေး ထက် ဦးစားပေး ပေးဆပ်ရမည့် အခြားကြွေးမြီ သို့မဟုတ် တာဝန်များမရှိစေရပါဟု အငှားချထားသူက အာမခံရမည်။ ]

၂၂.၆။ အငှားချထားသူ၏ပျက်ကွက်မှုအရဖြစ်စေ၊ အပိုဒ် ၁၂.၂ (ဃ)၊ (င) နှင့် (စ) တို့တွင် သတ်မှတ်ဖော်ပြ ထားသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရဆောင်ရွက်သော မလွန်ဆန်နိုင်သည့် ဖြစ်ရပ် တစ်ခုခုကြောင့် ဖြစ်စေ၊ ဤ MOA ကို ဖျက်သိမ်းပါက အငှားချထားသူသည် အထက်ပါအပိုဒ် ၂၂.၅ တွင် သတ်မှတ်ဖော်ပြထားသော အဖိုးစားနားကို ပေးချေခြင်းအပြင် စီမံကိန်းကုမ္ပဏီကို လျော်ကြေးပေးရမည်၊ စီမံကိန်းကုမ္ပဏီက လျော်ကြေးရစေရမည်ဖြစ်ကြောင်း၊ စီမံကိန်းနှင့်တိုက်ရိုက် သို့မဟုတ် သွယ်ဝိုက်၍ ဖြစ်စေ ဆက်စပ်သော ဆောင်ရွက်ပြီးစီးပြီးဖြစ်သည့် လုပ်ငန်းများအားလုံး သို့မဟုတ် ဆောင်ရွက်ဆဲ လုပ်ငန်းများ အားလုံးအတွက် ကုန်ကျစရိတ်များ အပါအဝင် ဖျက်သိမ်းခြင်းကြောင့် စီမံကိန်းကုမ္ပဏီက ကျခံရသော စရိတ်စကများ၊ ကုန်ကျစရိတ်များ၊ ပေးရန်တာဝန်များ၊ လျော်ကြေးများ၊ ထိခိုက်နစ်နာမှုများ အတွက် တာဝန် ရှိစေရမည် ဖြစ်ကြောင်း အငှားချထားသူက သဘောတူပါသည်။

**စည်းကမ်းချက် (၂၃) တရားစွဲဆိုခြင်းမှကင်းလွတ်ခွင့်**

၂၃.၁။ ဤ MOA အတည်ပြုဆောင်ရွက်ခြင်း၊ လက်ရောက်ပေးအပ်ခြင်း၊ နှင့် အကောင်အထည်ဖော်ခြင်းတို့အား ပုဂ္ဂလိကနှင့် စီးပွားရေးဆိုင်ရာဆောင်ရွက်မှုများအဖြစ် မှတ်ယူကြောင်းကို အငှားချထားသူက အကြွင်းမဲ့နှင့် ပြန်လည် ရုပ်သိမ်းခြင်းမပြုနိုင်သောအတိုင်းအတာဖြင့် သဘောတူသည်။

၂၃.၂။ အငှားချထားသူသည်

(က) ဤ MOA သို့မဟုတ် ဤMOA တွင် ဖျော်မှန်းထားသော ဆောင်ရွက်ချက်နှင့်ပတ်သက်၍ စီရင်ပိုင်ခွင့် အာဏာရှိသောနေရာတစ်ခုတွင် ၎င်းကိုဖြစ်စေ၊ ၎င်း၏ပစ္စည်းများကိုဖြစ်စေ၊ တရားစွဲဆိုမှု ပြုလုပ်ခဲ့ပါက၊ ၎င်းအတွက်ဖြစ်စေ၊ ၎င်း၏ပစ္စည်းများနှင့်စပ်လျဉ်း၍ဖြစ်စေ၊ အငှားချထားသူကိုယ်တိုင်က သော်လည်းကောင်း၊ ကိုယ်စားသော်လည်းကောင်း၊ အဆိုပါတရားစွဲဆိုမှုမှ ကင်းလွတ်ခွင့်ကို တောင်းဆိုမှု မပြုစေရ။

(ခ) ယင်းတရားစွဲဆိုမှုနှင့်စပ်လျဉ်း၍၊ စီရင်ပိုင်ခွင့် အာဏာရှိသောနေရာတစ်ခုတွင်၊ ၎င်း သို့မဟုတ် ၎င်း၏ပစ္စည်းများတွင် ယခုရရှိနေသော သို့မဟုတ် နောင်တွင်ရရှိနိုင်သော မည်သည့်ကင်းလွတ်ခွင့် ကိုမဆို စွန့်လွှတ်သည်၊ နှင့်

(ဂ) (ပစ္စည်းအသုံးပြုမှု သို့မဟုတ် အသုံးပြုရန်ရည်ရွယ်မှုနှင့်မဆိုင်ဘဲ၊ ပစ္စည်းတစ်ခုခုနှင့်စပ်လျဉ်း၍ တရားစွဲဆိုမှုပြုလုပ်ခြင်း၊ အတည်ပြုခြင်းနှင့် အကောင်အထည်ဖော်ခြင်းအပါအဝင်) တရားစွဲဆိုမှု မည်သည့် အဆင့်တွင်မဆို၊ ၎င်းနှင့်သက်ဆိုင်သော ဆုံးဖြတ်ချက်အား လိုက်နာဆောင်ရွက်ရန်အတွက် ယေဘုယျအားဖြင့် အငှားချထားသူက သဘောတူသည်။

## (၂၄) သီးခြားစီဖြစ်မှု

၂၄.၁။ မည်သည့်အကြောင်းရင်းကြောင့်ဖြစ်စေ၊ ဤ MOA ၏ ပြဋ္ဌာန်းချက်တစ်ရပ်သည် တရားမဝင်ခြင်း၊ ဥပဒေနှင့် ဆန့်ကျင်ခြင်း သို့မဟုတ် လိုက်နာရန်မသင့်ခြင်း ဖြစ်ပေါ်ခဲ့ပါက၊ သို့မဟုတ် ယင်းပြဋ္ဌာန်းချက်သည် တရားမဝင်ကြောင်း၊ ဥပဒေနှင့်ဆန့်ကျင်ကြောင်း သို့မဟုတ် လိုက်နာရန်မသင့်ကြောင်းကို စီရင်ပိုင်ခွင့် အာဏာရှိသော တရားရုံးတစ်ခုက ကြေညာခဲ့ပါက၊ ကျန်ပြဋ္ဌာန်းချက်များ၏ တရားဝင်ဖြစ်မှု၊ ဥပဒေ နှင့် မဆန့်ကျင်မှု သို့မဟုတ် လိုက်နာအပ်ခြင်းအပေါ် မည်သို့မျှထိခိုက်ခြင်းမရှိစေရ။ အဆိုပါ တရားမဝင်သော၊ ဥပဒေနှင့် ဆန့်ကျင်သော၊ လိုက်နာရန်မသင့်သော ပြဋ္ဌာန်းချက်နှင့်အနီးစပ်ဆုံးဖြစ်သည့် ပြဋ္ဌာန်းချက်များနှင့် အဆိုပါ တရားမဝင်သော၊ ဥပဒေနှင့်ဆန့်ကျင်သော၊ လိုက်နာရန်မသင့်သော ပြဋ္ဌာန်းချက်များကို အစားထိုးရန် အတွက် စာချုပ်ဝင်များက သဘောရိုးဖြင့်ညှိနှိုင်းကြရမည်။ စာချုပ်ဝင်များ က အစားထိုးပြဋ္ဌာန်းမည့် ပြဋ္ဌာန်းချက်များကို ညှိနှိုင်းသတ်မှတ်၍မရပါက အပိုဒ် ၂၇ တွင် သတ်မှတ်ထား သော ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်။

## (၂၅) လွှမ်းမိုးသည့်ဥပဒေ နှင့် တရားစီရင်ပိုင်ခွင့်

၂၅.၁။ ဤ MOA နှင့် ဤတွင်သတ်မှတ်ဖော်ပြထားသော လုပ်ငန်းဆောင်ရွက်မှုများအားလုံးကို မြန်မာနိုင်ငံ၏ ဥပဒေများနှင့်အညီ လွှမ်းမိုးလျက် နားလည်သဘောပေါက်လိုက်နာရမည်ဖြစ်ပြီး ရန်ကုန်မြို့ရှိတရားရုံးများ တွင်သာ တရားစီရင်ပိုင်ခွင့်အာဏာရှိစေရမည်။

## (၂၆) အထွေထွေ

၂၆.၁။ ဤ MOA ၏အပိုဒ် ၁၅ တွင်ပြဋ္ဌာန်းထားသည်မှအပ အခြားစာချုပ်ဝင်၏ စာဖြင့် ရေးသားသော ကြိုတင်သဘောတူခွင့်ပြုချက်မပါဘဲ၊ ဤ MOA ကိုဖြစ်စေ၊ ဤ MOA အရ ပေါ်ပေါက်သော အခွင့်အရေးနှင့်တာဝန်ကိုဖြစ်စေ၊ စာချုပ်ဝင်တစ်ဦးက လွှဲပြောင်းပေးအပ်ခြင်းမရှိစေရ။ အထက်ပါအချက်အရ၊ ဤ MOA သည် စာချုပ်ဝင်များ၊ နှင့် ၎င်းတို့၏ဆက်ခံသူများ၊ လွှဲအပ်ခြင်းခံရသူများတို့၏ အကျိုးခံစားခွင့်များအပေါ် စည်းနှောင်မှု၊ အကျိုးသက်ရောက်မှု ရှိစေရမည်ဖြစ်ပြီး အခြားမည်သည့်ပုဂ္ဂိုလ်အတွက် ဤ MOA အရ၊ ပေါ်ပေါက်လာသော အခွင့်အရေး၊ အကျိုးခံစားခွင့် သို့မဟုတ် တာဝန်တို့မရှိစေရ။

၂၆.၂။ ဤ MOA လက်မှတ်ရေးထိုးသည့်နေ့ရက်မှစတင်၍ ရက်ပေါင်း (       ) အတွင်း ဤ MOA ကို သက်ဆိုင်ရာ အစိုးရအာဏာပိုင်များထံတွင် မှတ်ပုံတင်ခြင်းအား နှစ်ဦးနှစ်ဖက်စီစဉ်ရမည်၊ ပြီးစီးအောင် ဆောင်ရွက်ရမည်။ ဤ MOA ကို မှတ်ပုံတင်ခြင်းနှင့်စပ်လျဉ်း၍ ကုန်ကျသော ကုန်ကျစရိတ်များအားလုံး အပါအဝင် အခွန်အခများ၊ တံဆိပ်ခေါင်းခွန်များ၊ ကုန်ကျစရိတ်များကို စီမံကိန်းကုမ္ပဏီက ကျခံရမည်ဖြစ်ပြီး အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ သက်တမ်းတိုးဆောင်ရွက်ခြင်းအတွက် စီမံကိန်းကုမ္ပဏီက ကျခံဖြေရှင်းရမည်။

၂၆.၃။ စာချုပ်ဝင်များ၏စာဖြင့်ရေးသား၍ လက်မှတ်ထိုးသော စာချုပ်စာတမ်းတစ်ခုဖြင့် မှတစ်ပါး၊ ဤMOA ကိုဖြစ်စေ၊ ယင်း၏ပြဋ္ဌာန်းချက်တစ်ရပ်ရပ်ကိုဖြစ်စေ ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း၊ စွန့်လွှတ်ခြင်း သို့မဟုတ် ကင်းလွတ်ခွင့်ပြုခြင်း မရှိစေရ။

၂၆.၄။ ဤ MOA တွင် အခြားနည်းပြဋ္ဌာန်းထားသည်မှအပ စာချုပ်ဝင်တစ်ဦးချင်းစီသည် ကိုယ်စား ပြု ဆောင်ရွက်သူများ၊ ကိုယ်စားလှယ်များ၊ အကြံပေးပုဂ္ဂိုလ်များ၊ ဥပဒေရေးရာရှေ့နေ နှင့် စာရင်းကိုင်များ အတွက် စရိတ်များ၊ ကုန်ကျစရိတ်များ နှင့် စရိတ်စကများအားလုံးအပါအဝင် ဤ MOA နှင့် စီမံကိန်းကို ပြင်ဆင်ဆောင်ရွက်ခြင်း၊ လက်မှတ်ရေးထိုးချုပ်ဆိုခြင်း၊ ဖြည့်ဆည်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ စရိတ် စကများ၊ ကုန်ကျစရိတ်များကို မိမိတို့ကိုယ်တိုင်ကျခံဖြေရှင်းကြရမည်။

၂၆.၅။ ဤ MOA ပါ ကိစ္စရပ်အားလုံးနှင့်စပ်လျဉ်း၍ စာချုပ်ဝင်များ၏ အပြည့်အဝသဘောတူညီ ချက်များ ဤ MOA တွင် ပါဝင်သည်။

၂၆.၆။ ဤသဘောတူမှတ်တမ်းတွင် ပူးတွဲပါဝင်သောနောက်ဆက်တွဲများအားလုံးသည် ဤသဘောတူမှတ်တမ်း၏ အရေးကြီးသောအစိတ်အပိုင်းများဖြစ်စေရမည်။

VDB | Loi

စာချုပ်ဂင်များသည် သက်သေများရှေ့မှောက်တွင် ဤ MOA ကို အထက်တွင်ဖော်ပြထားသော ရက်စွဲတွင် လက်မှတ်ရေးထိုးချုပ်ဆိုကြသည်။

**အငှားချထားသူ၏ကိုယ်စား**

လက်မှတ် -

အမည် - ဦးမြင့်အောင်

ရာထူး - ညွှန်ကြားရေးမှူး၊ ပြည်နယ်စည်ပင်သာယာရေးအဖွဲ့
မွန်ပြည်နယ်၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**သက်သေ**
လက်မှတ် -

အမည် -
ရာထူး -

**စီမံကိန်းကုမ္ပဏီ၏ကိုယ်စား**
MOSB Limited

လက်မှတ်-

အမည် -
ရာထူး -

**သက်သေ**
လက်မှတ် -

အမည် -
ရာထူး -

Draft dated 19.01.2017 (5.30 p.m.)

**MEMORANDUM OF AGREEMENT**

**BETWEEN**

**MON STATE DEVELOPMENT AFFAIRS**
**THE REPUBLIC OF THE UNION OF MYANMAR**
**(THE "LESSOR")**

**AND**

**MOSB LIMITED**
**A COMPANY INCORPORATED UNDER THE LAWS OF**
**THE REPUBLIC OF THE UNION OF MYANMAR**
**(THE "PROJECT COMPANY")**

**FOR**

**THE DEVELOPMENT OF AN ADMINISTRATIVE BASE CAMP**
**AND OFFSHORE SUPPLY BASE PORT TERMINAL AT**
**MON STATE, THE REPUBLIC OF THE UNION OF MYANMAR**

**[ ], 2017**

VDB | Loi

# TABLE OF CONTENTS

**Memorandum of Agreement**
**For**
**Development of an Administrative Base Camp**
**and Offshore Supply Base Port Terminal at**
**Mon State, Republic of the Union of Myanmar**

This Memorandum of Agreement ("**MOA**") is signed and delivered in [ ], the Republic of the Union of Myanmar on [ ] day of [ ], 2017 by and between:

Mon State Development Affairs, Mon State, the Republic of the Union of Myanmar having its head office situated at Mawlamyine (hereafter referred to as the "Lessor" which expression shall include its successor and permitted assigns), represented by U Myint Aung, Director of the Mon State Development Affairs, of one part**;**

AND

**MOSB LIMITED,** a company incorporated under the laws of the Republic of the Union of Myanmar, having company registration number 486FC/2015-2016 and registered address at Unit 3-14, Tawwin Thiri Condominium, Tower C, Corner of Pyay Road & Tawwin Road, 9 Mile, Mayangone Township, Yangon, (hereinafter called the **"Project Company"**, which expression shall include its legal respectives, successors and permitted assigns) duly represented by Naing Myo Set, Director of the other part.

The Lessor and Project Company are hereinafter collectively referred to as the "Parties" and individually as a "Party", as the context may so require.

**WHEREAS**:

A. The Mon State Development Affairs, a body duly constituted under the aegis of the Ministry of Development Affairs, Mon State, the Republic of the Union of Myanmar entered into an Memorandum of Understanding (the **"MOU")** on 24 February 2015 with Two Fish Supply Base Limited (the "**Concessionaire**") for the development and operation by the Concessionaire or any joint venture entity entered into by the Concessionaire, for the development of an Administrative Base Camp **("ABC")** and Offshore Supply Base Port Terminal (**"SBPT")** to be situated at land admeasuring 46.00 acres with block name (Kaw Htawt Kwin), Ground No (902), Wae Ka Li Village Tract, Mudon Township, Mon State (the "**Land**"), a detailed map of the Land is indicated per the map appended with the MOA as Annexure 1;

B. As per the MOU, the Lessor, under the authority of the Mon State Development Affairs, through the Mawlawyine District, Mudon Township Development Affairs, has agreed to the construction, employment and operation of the Project (as hereinafter defined) through a Build, Operate and Transfer **("BOT")** arrangement**,** having a tenure of fifty (50) years, with two possible extension of ten (10) years each from the Effective Date, as defined hereinafter;

C. For the purpose of implementation of the Project, the Lessor has demarcated the Land, having a total area of 46.0 Acres (which was submerged and has recently surfaced);

D. Pursuant to the signing of the MOU, the Concessionaire had deposited a refundable amount of 100 million Kyats with the Lessor by way of security money (the **"Deposit");**

E. For the successful development, construction and operation of the Project, the Lessor shall render all help, assistance and support, including but not limited to procuring from the relevant authorities in Myanmar, obtaining and granting all licenses, permits and authorizations required for the Project, and make available or acquire, as the case may be, the Land in favour of the Project Company for the Project for the Concession Period;

F. In development of the Project, it is critical to the Lessor that job opportunities are created, local development takes place and no harm is done to the natural environment. The Lessor is aware that in the development of the Project, reclamation of the Land as well as dredging and quarrying of sand and rock will be necessary;

G. For the purpose of implementation and operation of the Project the Concessionaire has entered into a joint venture agreement with 2 Fish (SG) Pte. Ltd, a Singapore company having its registered office at 221 Henderson Road #04-04, Henderson Building, Singapore 159557 for incorporation of the Project Company via joint venture agreement dated [●] (the **"JVA"**), post which the parties to the JVA have agreed that in line with the MOU, the Project Company shall implement the Project and all the rights and obligations of the Concessionaire under the MOU shall be transferred to the Project Company and for all the purposes directly or ancillary to the implementation and operation of the Project, the Project Company shall directly be responsible;

H. Pursuant to a letter dated [●] ("Deed of Assignment") as in Annexure 3, with the consent of the Lessor, the Concessionaire has transferred all its rights and obligations under the MOU (including the rights in relation to refundable amount of 100 million Kyats) to the Project Company and the same have been agreed by the Project Company and the Concessionaire by endorsing the abovementioned letter. Hence the rights of the Concessionaire stood transferred to the Project Company on [●];

I. By understanding the above premise and making itself fully aware of the scope of the Project the Project Company will enter into this MOA and develop the Project under a BOT arrangement for the Concession Period, and pursuant to the aforementioned purpose the Land would be leased to the Project Company for the tenure under BOT arrangement (the **"Lease"**);

J. The Lessor and the Project Company hereby enter into this MOA for the purpose of documenting the terms agreed between the Parties and to set forth all the terms and conditions regarding the implementation of the Project. This MOA shall, *inter alia*, serve as the basis for the establishment of the Project, the Project Company and the granting of the Concession Right (as defined

hereinafter) thereto, including but not limited to all necessary permits and licenses to the Land, permits from the Myanmar Investment Commission ("**MIC Permit"**), the trade license **("Trade License**") from Ministry of Commerce ("**MOC"**), and company registration certificate ("**CRC"**) from Directorate of Investment and Company Administration **("DICA**"), and the basis for the negotiation of other agreements related to the Project between the Parties.

**NOW THEREFORE THE PARTIES AGREE AS FOLLOWS:**

**1. DEFINITIONS**

1.1 **"Bonded Warehouse"** shall mean a customs-controlled warehouse for the retention of imported goods until the duty owed is paid.

1.2 **"Concession Rights"** shall mean shall mean the rights as defined under Article 2 of this MOA**.**

1.3 **"Concession Period "**shall mean the period starting from the date of signing of the MOA and until the expiry of the Operation Period, the First Extension and the Second Extension, as the case may be.

1.4 **"Construction Period"** shall be a period not exceeding three (3) years commencing from the date of signing of the MOA save for any Force Majeure Event occurring as stipulated in Article 12 of this MOA, and subject to such extension and other terms as may be set out in any other relevant agreements.

1.5 **"Effective Date"** shall mean the date of entering into the MOA by and between the Parties.

1.6 **"Financial Period"** shall means the annual accounting period of the Project Company commencing on 1 April and ending on 31 March in each calendar year

1.7 **"First Extension**" means the first extension of ten (10) years approved by the Lessor for the Project upon the expiry of the Operation Period.

1.8 **"Lease Agreement"** shall mean the master lease agreement signed or to be signed between the Lessor and the Project Company, substantially in the form set out in Annexure 2.

1.9 **"Lessor"** shall mean the Lessor in its capacity of leasing the Land to the Project Company.

1.10 **"Lessee"** shall mean the Project Company in its capacity of leasing the Land from the Lessor.

1.11 **"MOA"** shall mean this memorandum of agreement entered between the Lessor and the Project Company

1.12 **"Myanmar**" mean the Republic of the Union of Myanmar.

1.13 **"Operation Period"** shall be for a period of 50 (fifty) years, commencing from the date of commercial start of operations of the Project, being the date on which the Project is fully functional and ready for operation.

1.14 **"Project"** shall mean construction and operation of the ABC and SBPT on the Land.

1.15 **"Project Term"** shall mean the time period starting from the signing date of this MOA till the termination of Concession Period of the Project.

1.16 **"Second Extension"** means the second extension of ten (10) years approved by the Lessor for the Project upon the expiry of the First Extension.

1.17 **"Site"** shall mean the Land, (as detailed via maps annexed as Annexure 1 this MOA) and shall mean the area prescribed for use of the Project, as agreed by the Project Company and the Lessor.

1.18 **"Standard Debt Interest Rate"** shall mean the standard rate of interest charged by banks and financial institutions for loans and borrowings to fund projects similar to the Project which, in this MoA, would be deem to be ten per cent per cent (10%) per annum, calculated on 360-day year basis.

**2. CONCESSION RIGHTS**

2.1 The Lessor hereby grants the concession rights to the Project on a BOT basis to the Project Company, which rights shall come into effect as of the date hereof and remain in effect until the expiry of the Concession Period. The Concession Rights shall include, but not be limited to, the following:

(a) Register, operate and maintain the Project Company;
(b) Plan, develop survey, design, invest, construct, supervise, operate, maintain, manage, own and transfer the Project as per the agreed terms for the period prescribed under this MOA;
(c) Obtain, maintain and renew the permits, licenses, consents, approvals and other authorizations necessary for the performance and operation of the Project;
(d) Develop infrastructure forming part of the Site (defined herein) and the Project (including full access rights, rights of way and other necessary easements) and such other entitlements as may be set out in any other relevant agreements, for the entire duration of the Concession Period, for purposes of the performance, implementation and operation of the Project;
(e) Lease and use of the Site, subject to the Lease Agreement (substantially in the form as provided under Annexure 2 to this MOA) to be signed by the Parties in accordance with the Clause 5 herein and to make determination on all issues relating to the Site for purposes of implementing the Project, including any ancillary facilities, as provided in this MOA and any other relevant agreements entered into between the Parties in connection with this MOA;

(f) Use of the roadways and highways as needed to gain ingress to and egress from the Project and ancillary facilities; according to the rules and regulation allowed by the authorities concern;

(g) Import into Myanmar, and transport into and from the Site, equipment and machinery as necessary, according to the rules and regulations of the relevant authorities;

(h) Transport into and from the Site equipment and machinery as necessary; according to the rules and regulation allowed by the authorities Concern;

(i) Announce and distribute dividends of the Project Company;

(j) Auxiliary facilities in relation to the Project, including but not limited to necessary communication facilities, construction camp facilities such as project access road, concrete batching plants, metal structure workshop, fabrication shop, warehouses, camp water supply, Petroleum, Oil and Lubricant (POL) yard, waste management facilities, training facilities and medical facilities made in accordance with the existing laws;

(k) Be granted by the relevant authorities all and any tax, fiscal, customs, foreign exchange/ banking and other incentives, reliefs, exemptions, benefits and entitlements to the fullest extent allowed and available under the Myanmar Foreign Investment Law of 2012, the Myanmar Investment Law 2016 and other related laws and regulations of Myanmar;

(l) Hold and dispose of the profits of the Project Company

(m) Grant of Lease over the Land for the Concession Period, in favour of Project Company, for the purpose of implementation, construction and operation of the Project;

(n) To provide for and procure in favour of the Project Company, as the case may be, the grant of all licenses, approval, registrations for the Land, permits or any other approval (including but not limited to construction permits and import and export licenses) required for development/construction and operation of the Project;

(o) To provide for and procure in favour of the Project Company all licenses, permits or any other approval required for quarrying of stones and dredging of sand, required for the purpose of reclamation of the Land and also construction and development of the Project;

(p) To provide all assistance and help in establishing a Customs Clearance Branch ("**CCB**") and an Immigration Branch (**"IB")** at the Project;

(q) To provide for and procure in favour of the Project Company, all licenses, permits or any other approvals (including but not limited to the construction permit and bunkering license) from the Ministry of Finance, Customs Department and Ministry of Commerce or any other relevant ministry, required for construction and operation of a Bonded Warehouse and fuelling station pursuant to the Project;

(r) To provide for and procure in favour of the Project Company the Land, free from all encumbrances and encroachments by providing all assistance and taking all measures necessary (including but not limited to applying of force) for rehabilitation of people displace by the Project. For avoidance of doubt, the Lessor agrees that the cost of rehabilitation (including providing of suitable land for the displaced persons) shall be borne by the Lessor and Lessor shall secure in favour of the Project Company the Environmental and Social Impact Assessment (ESIA) from the Ministry of Environmental Conservation and Forestry (MOECAF) in accordance with Clause 6.3 of this MOA;

(s) Right to mortgage, charge, lease, assign or otherwise transfer the rights over the Land and/or the rights pursuant to the Lease Agreement for the purpose of raising finances, loans and other forms of borrowings for the development and construction of the Project and working capital requirements of the Project; and

(t) Any other matter or rights which is required for the Project and matters incidental or ancillary to the rights mentioned in Clause 2.1 of the MOA.

2.2 The MOA shall be read in conjunction with the MOU and other related agreements entered by and between the Parties and will be enforced as if the provisions of this MOA were incorporated therein by way of addition. To the extent of any inconsistency between the terms of this MOA, Lease Agreement and MOU, the provisions of MOA shall prevail. For the avoidance of doubt, the Parties agree that in all possible interpretation, the MOA shall prevail during the entire Operation Period and shall not be overruled by any amendment, supplement or in any other manner, without written consent of the Parties.

2.3 The Project Company agrees to implement the Project by participating in the survey, design, construction, operation. management and maintenance of the ABC, SBPT and all ancillary facilities for the Project by establishing the Project Company as a corporate entity to be registered in Myanmar in accordance with the Myanmar Companies Act, for the purposes of implementing the Project.

2.4 The time period for constructing the Project shall not exceed three (3) years commencing from the date, last in order, on which: (1) the Lessor provides for or procures in favour of the Project Company, the execution of the Lease Agreement in relation to the Land, and providing the same free from all encumbrances and encroachments; or (2) the Lessor provides letters of recommendation whenever it is required for the Project Company to procure all the Government licenses, permits and any other approvals (including but not limited to construction permit, bunkering licenses, export and import licenses, licenses for quarrying of stones and dredging of sand, etc.) required for the construction and operation of the Project, unless extended by mutual agreement between the Parties and in the case of the occurrence of Force Majeure as stipulated under Clause 12 herein.

2.5 The Lessor shall not in any manner, directly or indirectly, expropriate, nationalize, impede, postpone or take similar measures against the Project during the Concession Period and accord the safeguards provided against expropriation under the Foreign Investment Law, 2012 and the Myanmar Investment Law 2016 to the Project Company during the Concession Period.

2.6 The Lessor shall use its best efforts to prevent the Project Company from incurring any damage or any loss of any kind, directly or indirectly, caused by any third parties, including without limitation, individual governmental officers, inhabitants, workers, religious organizations, non-profitable organizations, non-governmental organizations or any similar organizations in the territory of Mon State, the Republic of Union of Myanmar. Should the Project Company encounter

any damage or threats thereof from any third parties, the Lessor shall take immediate action to mitigate Project Company from incurring any damage.

**3. SCHEDULE OF SIGNIFICANT EVENTS**

3.1 The Parties, shall, in all reasonable prudence, from the date of entering into the present MOA, achieve the following milestones for the purpose of construction and operation of the Project, within the below stated timeline:

| Sl. | Description of Event | Timeline |
|---|---|---|
| 1. | Signing of MOA by both the Parties | [● |
| 2. | Signing of the Lease Agreements by both the Parties for Land and Government Land | [●] |
| 3. | Groundbreaking | [●] |
| 4. | Construction | [●] |
| 5. | Commencement of Operations | [●] |



**4. REPRESENTATION AND WARRANTIES**

4.1 The Lessor represents and warrants the following as of the date of execution of this MOA:

(a) Capacity. The Lessor has the powers and capacity to enter into this MOA and to fulfill its obligations under this MOA. This MOA has been duly executed and constitutes a legal, valid and binding obligation for the Lessor, enforceable under its provisions. The Lessor has provided and/or will provide to the Lessee with copies of any authorization, board resolution, directive or order] required by the Lessor to enter into the commitments contemplated by this Agreement.

(b) Rights of the Lessor with respect to the Land. The Lessor is and will be the sole owner of the Land, and has and will maintain all rights of ownership over the Land, free and clear from any lien, incumbency or charge.

(c) No third party claim or rights over the Project and the Land. There are no pending or outstanding claims, lawsuits, trials, governmental proceedings or otherwise related to the purpose of this Agreement, which could have an adverse effect on the business hereby contemplated. No person has a claim, right, option or otherwise over the Land either

directly or indirectly, and the Lessor will not grant rights to the Land to a third party during the Lease Period.

4.2 The Lessee represents and warrants the following as of the date of execution of this Agreement:

(a) Capacity. The Lessee has the powers and capacity to enter into this Agreement and to fulfill its obligations under this Agreement. This Agreement has been duly executed and constitutes a legal, valid and binding obligation for the Lessee, enforceable under its provisions. The Lessee has provided and/or will provide the Lessor with copies of the corporate authorizations required to enter into the commitments contemplated by this Agreement. Annex 2 to this Agreement contains copies of the authorizations required by the Lessee.

## 5. TERMS OF THE BOT

5.1 The Project Company will develop, construct and operate the Project, in accordance with Concessions Rights on the Land under a BOT arrangement.

5.2 At least two years prior to the expiry of the Operation Period, the Lessor shall notify the Project Company in writing of its approval to grant the First Extension, subject to any increase in annual rent as provided in the Lease Agreement. Upon receipt of such notification, the Project Company will, continue with the Project until the expiry of the First Extension and all terms and Concession Rights set out in this MOA shall continue.

5.3 Subject to the First Extension being granted, the Lessor shall, at least two years prior to the expiry of the First Extension, notify the Project Company in writing of its approval to grant the Second Extension, subject to any increase in annual rent as provided in the Lease Agreement. Upon receipt of such notification, the Project Company will, continue with the Project until the expiry of the Second Extension and all terms and Concession Rights set out in this MOA shall continue.

5.4 In the event that the Lessor notifies the Project Company (such notification to be provided at least two years before the expiry of the Operation Period) that the First Extension is not approved, then upon the expiry of the Operation Period, the Project shall be transferred to the Lessor upon expiry of the Operation Period.

5.5 In the event that an extension has not been granted at the end of each relevant period, the Project shall be transferred to the Lessor at the expiry of each relevant period

5.6 The Project Company shall develop, construct and operate the Project at its own cost.

5.7 Subject to Clause 5.4, the Parties further agree that the Project Company shall transfer the Project to the Lessor upon the expiry of the Concession Period.

## 6. LAND AND LEASE

6.1 As per the Concession Rights, the Lessor hereby agrees to provide the Lease over the Land for the Concession Period, subject to the Parties entering into the Lease Agreement, substantially in a form as set out in Annexure 2 of the MOA and simultaneously with the execution of the MOA, enter into the Lease Agreement with the Project Company for the Land.

6.2 The Lessor agrees to provide for the Lease of the Land to the Project Company, free from all encumbrances and encroachment, to the satisfaction of the Project Company subject to the payment of the Annual Rent (as defined in the Lease Agreement) and at such times in accordance to the terms set out in the Lease.

6.3 The Parties agree that the Lessor shall secure in favour of the Project Company the ESIA from MOECAF, by resettlement and compensation to the third parties living or working on the Land and who would be deemed to be affected by such implementation and operation of the Project, so as to enable the Project Company to obtain the full benefit of the Land for the Project.

6.4 The Parties agree that the Parties shall mutually arrange and complete the registration of the Lease Agreement and all taxes, stamp duties and fees for the aforementioned registration will be borne by the Project Company.

## 7. QUARRYING AND DREDGING RIGHT

7.1 The Lessor is aware that in the implementation of the Project, a portion of the Land will have to be reclaimed from water. Pursuant to this, there will be substantial requirement of sand and rock during the construction phase of the Project, which may be obtained by dredging and quarrying. For the purpose mentioned herein, the Lessor hereby agrees to assist the Project Company to obtain all licenses, permits or any other approval required for quarrying of stones and dredging of sand, to reclaim the portion of the Land from water for implementation of the Project and do all other things incidental or ancillary thereto.

## 8. CUSTOMS AND IMMIGRATION

8.1 The Lessor agrees and undertakes to help in establishing a CCB and IB at the Project before the start of the Operation Period of the Project and do all other things incidental or ancillary thereto such as cause to procure in favour of the Project Company all permits, licenses and other approvals required (including but not limited to export and import licenses) by the Project Company for the purpose of undertaking export and import operation and do all other things incidental or ancillary thereto.

## 9. BONDED WAREHOUSE

EIA/SIA + FORESTARY

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဒုတိယညွှန်ကြားရေးမှူးရုံး
မွန်ပြည်နယ်

စာအမှတ်၊ ၂၉၈ / အီးအိုင်အေ/ မပန
ရက်စွဲ၊ ၂၀၁၅ခုနှစ်၊ မတ်လ ၉ ရက်

သို့

ပြည်နယ်အစိုးရအဖွဲ့ရုံး
မွန်ပြည်နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မွန်ပြည်နယ်၏ (၁၈.၁၂.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၃၀၀/၁-၂၇/၀၁၈ (မွန်)

၁။ Two Fish Supply Base Co., Ltd သည် မော်လမြိုင်ဆိပ်ကမ်း ပင်လယ်ဝတွင် တည်ရှိပြီး ပင်လယ်ကမ်းဝေးလုပ်ငန်းများဖြစ်သည့် ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်နှင့် အခြားလုပ်ငန်းသုံး ပစ္စည်းများကို ဖြန့်ဖြူးပို့ဆောင်ရေး အခြေခံဆိပ်ကမ်း (Supply Base Port Terminal) ထူထောင်၍ ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ရန်ကိစ္စနှင့် ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ အဆိုပါစီမံကိန်းသည် မော်လမြိုင်ဆိပ်ကမ်းပင်လယ်ဝ မော်လမြိုင်(သံလွင်မြစ်) ၏ အရှေ့ဘက်ကမ်းရှိ ကမာဝက်ချောင်းနှင့် ဝါးခရုချောင်းဆုံရာအနီး ကမ်းပါးတွင်တည်ရှိပါသည်။ မွန်ပြည်နယ် မော်လမြိုင်ခရိုင် ၊ မုဒုံမြို့နယ်အတွင်း ကျိုက္ခမီမြို့၏ မြောက်ဘက်ယွန်းယွန်း၊ ဝဲကလိကျေးရွာအုပ်စု ၊ ကွင်းအမှတ် (၉၀၂) ကော့တော့ကွင်းမြေနေရာဖြစ်၍ အစိုးရပိုင်ကျွန်းနုမြေအတန်းအစား ဖြစ်ပါသည်။

၃။ စီမံကိန်းလိုအပ်ချက်အရ လုပ်ငန်းကဏ္ဍ(၃) မျိုးကို အကောင်အထည်ဖော်ရမည်ဖြစ်ရာ လုပ်ငန်း ကဏ္ဍ(၁) အနေဖြင့် ရေဘက်အကောင်အထည်ဖော်ရန် စီမံကိန်းလုပ်ငန်းကဏ္ဍအနေဖြင့် ဆိပ်ခံတံတားနှင့် ကမ်းပါးထိန်းတာရိုး၊ လုပ်ငန်းကဏ္ဍ(၂) အနေဖြင့် ကုန်းဘက်အကောင်အထည်ရန် စီမံကိန်းလုပ်ငန်းပိုင်းများ ၊ လုပ်ငန်းကဏ္ဍ (၃) အနေဖြင့် စီမံကိန်းအတွက် ကားလမ်းဖောက်လုပ်ဆက်သွယ်ခြင်း လုပ်ငန်းပိုင်းများဟူ၍ ပါရှိပါသည်။

၄။ အဆိုပြုစီမံကိန်းတည်ဆောက်မည့်မြေနေရာအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မွန်ပြည်နယ်မှ (၂၉.၁.၂၀၁၅) ရက်နေ့တွင် ကွင်းဆင်းစစ်ဆေးခဲ့ရာ အောက်ပါအတိုင်း တွေ့ရှိရပါသည်။

(က) မော်လမြိုင်ဆိပ်ကမ်းပင်လယ်ဝအနီးတွင် ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်ဆီနှင့် အခြားလုပ်ငန်းသုံးစက်ပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်ရေး အခြေခံဆိပ်ကမ်းတစ်ခု ထူထောင်ရန် စီမံကိန်းဆောင်ရွက်ရာတွင် အစိုးရပိုင်မြေ၊ ကျွန်းနုမြေအမျိုးအစား (၄၆) ဧက ရှိပြီး ၎င်း(၄၆) ဧက သည် ဓနိတော ရွှံ့နွံမြေဖြစ်၍ ၎င်းတို့အား ခုတ်ထွင်ရှင်းလင်းပြီး မြေဖို့မည်ဖြစ်ကြောင်း သိရှိရပါသည်။

(ခ) အဆိုပြုစီမံကိန်းနေရာတွင် အလျား မီတာ(၆၀၀) ၊အနံ မီတာ(၃၀၀) အရွယ် မြေကွက်ကို ဆိပ်ခံတံတားတည်ဆောက်ရန်လျာထားပြီး မွန်ပြည်နယ်အစိုးရအဖွဲ့သို့တင်ပြတောင်းခံခဲ့ရာ မွန်ပြည်နယ်အစိုးရအဖွဲ့၏ မူအားဖြင့် သဘောတူခွင့်ပြုချက်အရ သက်ဆိုင်ရာမြေစာရင်းဦးစီးဌာနမှ ကမ်းလွန်ရေနံအခြေခံစခန်းဆောက်လုပ်ရန် (၄၆) ဧက အကျယ်အဝန်းရှိ မြေကွက်ကို ခွင့်ပြုချက်ရရှိထားပြီးဖြစ်ကြောင်း သိရှိရပါသည်။

(ဂ) ဆိပ်ခံတံတားအပေါ် ကုန်ကိုင်တွယ်စက်ကိရိယာဖြတ်သန်းနိုင်မှုနှင့် တပ်ဆင်အလေးဝန်ကို ခံနိုင်ရည်ရှိအောင် စီမံတည်ဆောက်မည်ဖြစ်ကြောင်း သိရှိရပါသည်။

(ဃ) စီမံကိန်းတံတားတစ်ခုလုံး၏ အရွယ်အစားမှာ စီမံကိန်းလုပ်ငန်းပြီးမြော က်ချိန်၌ ရှေ့ဆိပ်ခံတံတားစုစုပေါင်း အလျားမီတာ ၆၀၀( မီတာ ၂၀၀အရှည် တံတား၃စင်း) ဖြစ်ပါသည်။ ၎င်းတံတား (၃) စင်းမှာ မြစ်ကြေဘက်သံမဏိဆိပ်ခံတံတား၊ (အလျား မီတာ ၂၀၀) နှင့် မြစ်ညာဘက်သံကူကွန်ကရစ်ဆိပ်ခံတံတား ၂ ခုပေါင်း အလျား မီတာ ၄၀၀၊ ကမ်းထောက်တံတား၂ ခု၊ (၁၂၃+၁၂၃) ၊စုစုပေါင်း ၂၄၆ မီတာနှင့် တံတားချဉ်းကပ်လုပ်ငန်းခွင်ရှိ သံလွင်မြစ်ကမ်းပါးမှာ တည်ငြိမ်မှုမရှိသေးသောကမ်းပါးဖြစ်၍ ရေစီးကြောင်းပြောင်းလဲလာပါက ကမ်းပြိုမှု မဖြစ်စေရေးအတွက် ကမ်းပါးထိမ်း ကျောက်စီရေကာတာရိုး စုစုပေါင်းမီတာ ၆၅၀ကို ပထမအဆင့် မီတာ၃၂၅၊ ဒုတိယအဆင့် မီတာ ၃၂၅ ခွဲခြား၍ ဆောက်လုပ်ကာကွယ်ရန် လျာထားကြောင်း တွေ့ရှိရပါသည်။

(င) ဆိပ်ကမ်း၌ ထားသိုကိုင်တွယ်ဖြန့်ဖြူးမည့် ကုန်စည်အမျိုးအစားမှာ ဒီဇယ်ဆီ ၊ ရွှံ့နွံစေးအရည် (Mud Fluid) ၊ ဘိလပ်မြေ၊ ရေချိုများအပြင် ပင်လယ်ကမ်းဝေးလုပ်ငန်း၌ လိုအပ်သော အထွေထွေကုန်စည်အမျိုးမျိုးပါဝင်ကြောင်း သိရှိရပါသည်။

(စ) အဆိုပြုစီမံကိန်းမှ မီးဘေးအန္တရာယ်အတွက် မီးသတ်ရေကန်များထားရှိရန် လျာထားကြောင်း တွေ့ရှိရပါသည်။

(ဆ) စီမံကိန်းလုပ်ငန်းတစ်ခုလုံး အကောင်အထည်ဖော်မှုကာလစီမံချက်သည် (က) ပထမအဆင့်လုပ်ငန်းများ လျာထားကာလ= ၂ နှစ် ၊ (ခ) ဒုတိယအဆင့်လုပ်ငန်းများ လျာထားကာလ= ၁နှစ် ၆လ၊ တတိယအဆင့် လုပ်ငန်းများလျာထားကာလ= ၂ နှစ် စုစုပေါင်း ကြာမြင့်ချိန် ၅နှစ် ၆လ လျာထားကြောင်း တွေ့ရှိရပါသည်။

၅။ အခြေခံဆိပ်ကမ်းတစ်ခုထူထောင်မှုနှင့် ပတ်သက်၍ စစ်ဆေးတွေ့ရှိချက်အပေါ်အောက်ပါအတိုင်း သုံးသပ်ရပါသည်။

(က) မော်လမြိုင်ဆိပ်ကမ်းပင်လယ်ဝအနီးတွင် ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်နှင့်အခြားလုပ်ငန်းသုံးပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်ရေးအခြေခံဆိပ်ကမ်းထူထောင်ခြင်းသည် ကမ်းလွန်ရေနံတူးဖော်ရာ၌ လိုအပ်သောလုပ်ငန်းသုံးပစ္စည်းများ ၊ ဒီဇယ်ဆီများအလွယ်တကူရရှိနိုင်မည်ဖြစ်သောကြောင့် စီမံကိန်းလုပ်ငန်းများလည်ပတ်ချိန်တွင်ဒေသခံပြည်သူများအလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်မည်ဟု သုံးသပ်ရပါသည်။

(ခ) စက်ဆီ၊ ချောဆီ၊ ဂ္ဂားတာယာ၊ ဘတ္တရီအိုပဟောင်းများ စနစ်တကျမစွန့်ပစ်ခြင်း၊ လုပ်ငန်းသုံးယာဉ်၊ ယန္တယားများကြောင့် အသံဆူညံမှုနှင့် လုပ်သားများ၏ ယာယီစခန်းမှ စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်ရေများကြောင့် ပတ်ဝန်းကျင်နှင့် ဂေဟာစနစ်အပေါ်အနည်းငယ်ထိခိုက်နိုင်မည်ဟု သုံးသပ်ရပါသည်။

(ဂ) အဆိုပါစီမံကိန်းလုပ်ငန်း ဆောင်ရွက်ရာတွင် ဒီရေတော (၄၆) ဧက အား ခုတ်ထွင်ရှင်းလင်းပြီး ဆိပ်ခံတံတားတည်ဆောက်မည်ဖြစ်သဖြင့် ၎င်းဆိပ်ခံတံတားနှင့် မြေကာနံရံကြောင့် ပတ်ဝန်းကျင်ရှိဒေသခံများအပေါ် လေပြင်းမုန်တိုင်းနှင့် ရေကြီးရေလျှံခြင်းမှ ကာကွယ်ပေးနိုင်မည်ဟု သုံးသပ်ရပါသည်။

၆။ သို့ဖြစ်ပါ၍ အခြေခံဆိပ်ကမ်းထူထောင်မှုနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန မွန်ပြည်နယ်မှ အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုများလျော့နည်းစေရန် လုပ်ငန်းအဆင့်ဆင့်အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် စက်ပစ္စည်းများနှင့် နည်းလမ်းအစီအမံများ ဂေဟာစနစ်ထိခိုက်မှုအားလျော့နည်းသက်သာစေမည့် နည်းလမ်းများ ထည့်သွင်းဆောင်ရွက်ရန်

(ခ) ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိခိုက်မှု လေ့လာဆန်းစစ်ခြင်း (Environmental Impact Assessment) ကို တတိယအဖွဲ့အစည်းတစ်ခုအားငှားရမ်း၍ ဆောင်ရွက်တင်ပြစေရန်

(ဂ) EIA အစီရင်ခံစာတွင် စောင့်ကြပ်ကြည့်ရှုသည့်စနစ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေနှင့် လုပ်ငန်းအစီအစဉ်များပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental

Manangement Plan – EMP ) များရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်

(ဃ) ဒေသခံပြည်သူများ၏ လူမှုရေး၊ ကျန်းမာရေး၊ ပညာရေး၊ ဘာသာရေး၊ လျှပ်စစ်မီး လင်းရေးနှင့် လမ်းပန်းဆက်သွယ်မှုနည်းလမ်းများ ဖွံ့ဖြိုးတိုးတက်လာစေရန်အတွက် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility –CSR) လုပ်ငန်းများတွင် ဆက်လက်ကူညီပံ့ပိုးပေးရန်နှင့် ၎င်းအတွက် နှစ်စဉ်ကုန်ကျမည့် ငွေကြေးတို့ကို EMP ရေးဆွဲထားရှိ၍ ဆက်လက်ဆောင်ရွက်သွားရန်

(ဈ) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ ၊ ဥပဒေ ၊ နည်းဥပဒေ၊ အခြားပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ဆက်နွယ်သော ဥပဒေများ ၊ ညွှန်ကြားချက်များအပြင် သက်ဆိုင်ရာဌာနများမှ ချမှတ်ထားသည့် ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက Two Fish Supply Base Co., Ltd မှ အဆိုပြုထားသောစီမံကိန်းလုပ်ငန်းအားကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

(မိုင်အက်စတာ)
ဒုတိယညွှန်ကြားရေးမှူး

မိတ္တူ

ဝန်ကြီး၊ သစ်တောနှင့်သတ္တုဝန်ကြီးဌာန၊ ပြည်နယ်အစိုးရအဖွဲ့၊ မွန်ပြည်နယ်
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်
Two Fish Supply Base Co., Ltd
သီးသန့်စာတွဲ
မျှောစာတွဲ/ ရုံးလက်ခံ